ပြည်ထောင်စုမြန်မာနိုင်ငံတော်
ပုံစံ ... ဖွဲ့အမှတ် ၃၃၁၉
နေ့စွဲ ၃၁.၇.၉၈
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် နသ-၁၆၀/၉၈ ၁၉၉၈ ခုနှစ်၊ ဇူလိုင် လ ၃၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဗိုလ်မှူးကြီးဝင်းမောင် (အငြိမ်းစား)

(ခ) အဘအမည် ဦးလှမောင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ဘီအိပ်ချ်အို-၀၀၄၉၆၃

(ဃ) နေရပ်လိပ်စာ အမှတ်-၂၂၊ ဗောဓိရိပ်သာလမ်း၊ ရွှေတောင်ကြား (၂) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း မြန်မာလီဝေဝေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Myanmar Liwayway Food Industries Limited)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား စားသောက်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း (မုန့်မျိုးစုံ)

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ် (၄၇၄)၊ မြေတိုင်း ရပ်ကွက်အမှတ်-၂၃၊ စက်မှုဇုန်-၁၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်း။

(ဇ) တည်ငွေရင်းပမာဏ(ကျပ်) ၃၄၅.၀၂ သန်းခန့်
(ကျပ်သုံးရာလေးဆယ့်ငါးသန်း၊ နှစ်သောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**Myanmar Liwayway Food Industries, Ltd.**
No.96/98, Pansodan Street, Kyauktada Township, Yangon, Myanmar.
Tel : 250529, 272250, 273520, 283621, Fax : 95-1-240098 , P.O.Box : 1497

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ။ ။ စီမံ / မနသ / ၀၄၀

ရက်စွဲ ။ ။ ၁၉၉၈ ခုနှစ် ဩဂုတ်လ (၃)ရက်

အကြောင်းအရာ ။ ။ <u>ကိုယ်စားလှယ်လွှဲအပ်ခြင်း။</u>

မြန်မာလီဝေဝေစားသောက်ကုန်လုပ်ငန်းလီမိတက်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ငန်းများဆောင်ရွက်နိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်ကို ထုတ်ယူရန် ကုမ္ပဏီမှ လ/ထအထွေထွေမန်နေဂျာ ဦးအောင်ကြည်ဦး(အမျိုးသားမှတ်ပုံတင်အမှတ် AKB-187973) အား ကိုယ်စားလှယ်အဖြစ် လွှဲအပ်ပါသည်။

လေးစားစွာဖြင့်

ဗိုလ်မှူးကြီးဝင်းမောင်(ငြိမ်း)

ဥက္ကဋ္ဌ

မြန်မာလီဝေဝေစားသောက်ကုန်လုပ်ငန်းလီမိတက်

ဦးအောင်ကြည်ဦး
AKB ၁၈၇၉၇၃
၂၁၊ကျောက်ရေတွင်းလမ်း၊
ကျောက်မြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/မ-၀၀၁/၉၀(၂၇၃၉)။
ရက်စွဲ၊ ၁၉၉၀ ခုနှစ်၊ ဇူလိုင်လ ၃ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။မြန်မာလီဝေဝေးစားသောက်ကုန်လုပ်ငန်းလီမိတက်မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာလီဝေဝေးစားသောက်ကုန်လုပ်ငန်းလီမိတက်( Myanmar Liwayway Food Industries Ltd. )မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို(၂၆-၆-၉၀) နေ့က ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၁/၉၀) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်းများ၊ ဆောက်လုပ်ရေးပစ္စည်းများနှင့်ကုန်ကြမ်းပစ္စည်းများဝယ်ယူရန် Supplier's Credit System အရ သဘောတူစာချုပ်(မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ်ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ(၁၁.၆၁)သန်းအပါအဝင်ကျပ်(၃၄၅.၀၂)သန်းဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ်(၁၀.၀၀)သန်း၊ မြေကွက်ဖိုးကျပ်(၆၀.၃၃)သန်း၊ အဆောက်အဦတန်ဖိုးကျပ်(၂၁၁.၂၅)သန်း[အမေရိကန်ဒေါ်လာ(၁.၇၀)သန်းအပါအဝင်] ၊

စက်ပစ္စည်းကိရိယာများတန်ဖိုးကျပ် ( ၄၉.၅၀ ) သန်း [အမေရိကန်ဒေါ်လာ ( ၈.၂၅ ) သန်း] နှင့်ကုန်ကြမ်းပစ္စည်းများတန်ဖိုးကျပ် ( ၁၅.၉၄ ) သန်း [အမေရိကန်ဒေါ်လာ ( ၂.၆၆ ) သန်း] ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းများ၊ ဆောက်လုပ်ရေးပစ္စည်းများနှင့်ကုန်ကြမ်းပစ္စည်းများကို ဖိလစ်ပိုင်နိုင်ငံ Liwayway Marketing Corporation မှ Supplier's Credit System အရ အတိုးမဲ့ဝယ်ယူမည်ဖြစ်ပြီး၊ ( ၁၂ ) နှစ်အတွင်း ပြန်လည်ပေးချေရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြန်မာလီဝေဝေးစားသောက်ကုန်လုပ်ငန်းလီမိတက်အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်အကွက်အမှတ်( ၄၅၄ )၊ ရပ်ကွက်အမှတ်( ၂၃ )၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်-၁၊ ရန်ကုန်မြို့ရှိ မြေအကျယ်( ၁၁.၅၁၂ ) ဧက( ၄၂၅၄၀.၅၉ စတုရန်းမီတာ) ပေါ်တွင်စက်ရုံတည်ဆောက်ပြီးမုန့်မျိုးစုံထုတ်လုပ်ရောင်းချသွားမည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင်ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| အမှတ်စဉ် | အမျိုးအမည် | ပြည်ပ ( ၄၀ % ) | | ပြည်တွင်း ( ၆၀ % ) | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (ကာတွန်း) | ရောင်းဈေး ( US $ / ကာတွန်း) | ထုတ်လုပ်မှု (ကာတွန်း) | ရောင်းဈေး ( ကျပ် / ကာတွန်း) |
| ၁။ | Kropeck | ၈၂၉၄၄ | ၄၂ | - | - |
| ၂။ | Snack Food Type A | ၁၃၂၇၁၀ | ၉ | ၁၉၉၀၆၆ | ၁၅၀၀ |
| ၃။ | Snack Food Type B | ၁၉၉၀၆၆ | ၉ | ၂၉၈၅၉၈ | ၁၅၀၀ |
| ၄။ | Snack Food Type C | ၁၃၂၇၁၀ | ၉ | ၁၉၉၀၆၆ | ၁၇၀၀ |
| ၅။ | Snack Food Type D | ၉၉၅၃၃ | ၉ | ၁၄၉၂၉၉ | ၂၀၀၀ |

၅။ ဤလုပ်ငန်းမှလိုအပ်သောကုန်ကြမ်းပစ္စည်းများကို ပြည်တွင်း၊ပြည်ပ မှ မှာယူတင်သွင်းမည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သိန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၃၈၃.၅၁ | ၅၁.၃၆ | ၁၄၃၄.၈၇ |
| (ခ) အသုံးစရိတ် | ၁၁၈၀.၅၀ | ၃၉.၃၉ | ၁၂၁၉.၈၉ |
| (ဂ) အသားတင်အမြတ် | ၂၀၃.၀၁ | ၁၁.၉၇ | ၂၁၄.၉၈ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၁.၃၅ |
| (ကျပ်သိန်း) | ၈၇.၁၁ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သိန်း) | ၆၅.၈၈ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၃၈၅) ဦးနှင့်ပြည်ပမှ ဝန်ထမ်း (၆) ဦးခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံထားရာ ကန့်ကွက်ရန်မရှိကြောင်းအကြောင်း ပြန်ကြားလာပါသည်။

၁၀။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ ညီသူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးနှင့် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေးလုပ်ငန်းများကို စနစ်တကျစီမံ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပြည်ပသို့တင်ပို့ရန် ဈေးကွက်ရှိပြီးဖြစ်ကြောင်းနှင့် ချေးငွေရယူခြင်းသည်နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိဘဲ ကုမ္ပဏီ၏တာဝန်သာဖြစ်ပြီး၊ ကုမ္ပဏီမှရရှိသည့်နိုင်ငံခြားဝင်ငွေဖြင့် ပေးဆပ်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များအနက် လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) မြန်မာလီဝေဝေဝါး သောက်ကုန်လုပ်ငန်းလီမိတက်မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုရန် သဘောတူ - မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန်သဘောတူပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ - မတူ။

၁၁/၉၈ MIC memo
၂၆.၆.၉၈



ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/၀၀၀/ဒ၀(၂၅၁၈)
ရက်စွဲ။ ၁၉၉၈ ခုနှစ်၊ ဇွန်လ ၂၄ ရက်။

## အမှာစာ

အကြောင်းအရာ။ ။ မြန်မာလီဝေးဝေးစားသောက်ကုန်လုပ်ငန်းလီမိတက်မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာလီဝေးဝေးစားသောက်ကုန်လုပ်ငန်း လီမိတက် ( Myanmar Liwayway Food Industries Ltd. )မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ( ၁၉ - ၆ - ၉၈ ) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၁ / ၉၈ ) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်ရရှိခဲ့ခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်းများ၊ ဆောက်လုပ်ရေးပစ္စည်းများနှင့်ကုန်ကြမ်းပစ္စည်းများ ဝယ်ယူရန် ၊ Supplier's Credit System အရသဘောတူစာချုပ် ( မူကြမ်း ) နှင့် ငွေရေးကြေးရေးဆိုင်ရာအသေးစိတ်ဇယားများကို နောက်ဆက်တွဲ( ၁ ) အဖြစ်တင်ပြထားပါသည်။

၂။ လုပ်ငန်း၏မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ( ၁၁.၆၁ ) သန်း အပါအဝင်ကျပ် ( ၃၄၅.၀၂ ) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် ( ၁၀.၀၀ ) သန်း ၊ မြေတန်ဖိုး ကျပ် ( ၆၈.၃၃ ) သန်း၊ အဆောက်အဦတန်ဖိုးကျပ် ( ၂၀၁.၂၅ ) သန်း [ အမေရိကန်ဒေါ်လာ ( ၀.၇၀ ) သန်း အပါအဝင် ]၊ စက်ပစ္စည်းကိရိယာများ တန်ဖိုး ကျပ် ( ၄၉.၅၀ ) သန်း [ အမေရိကန်ဒေါ်လာ ( ၈.၂၅ ) သန်း ] နှင့်ကုန်ကြမ်းပစ္စည်းများ တန်ဖိုး ကျပ် ( ၁၅.၉၄ ) သန်း [ အမေရိကန်ဒေါ်လာ ( ၂.၆၆ ) သန်း ] ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းများ၊ ဆောက်လုပ်ရေးပစ္စည်းများနှင့်ကုန်ကြမ်းပစ္စည်းများကို ဖိလစ်ပိုင်နိုင်ငံ Liwayway Marketing

Corporation - မှ Supplier's Credit System အရအတိုင်း ဝယ်ယူမည်ဖြစ်ပြီး ၊ (၁၂) နှစ်အတွင်း ပြန်လည်ပေး ချေရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မြန်မာလယ်ပေ ပေ ဘွားဆောက် ကုန်ပုပ်ငန်း လီမိတက်အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန ပိုင်အကွက်အမှတ်(၄၇၄)၊ ရပ်ကွက်အမှတ်(၂၃)၊ ဒဂုံမြို့သစ် တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်-၁၊ ရန်ကုန်မြို့ ရှိ မြေအကျယ်(၁၁.၅၁၂)ဧက (၄၂၅၄၀.၅၉ စတုရန်းမီတာ)ပေါ်တွင် စက်ရုံတည်ဆောက်ပြီး မုန့်မျိုးစုံထုတ်လုပ် ရောင်းချသွားမည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှ ပုံမှန်နှစ်တွင်ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ပြည်ပ (၄၀%) | | ပြည်တွင်း (၆၀%) | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (ကာတွန်း) | ရောင်းဈေး (US $/ ကာတွန်း) | ထုတ်လုပ်မှု (ကာတွန်း) | ရောင်းဈေးနှုန်း (ကျပ်/ကာတွန်း) |
| ၁။ | Kropeck | ၈၂၉၄၄ | ၄၂ | - | - |
| ၂။ | Snack Food-Type A | ၁၃၂၇၁၁ | ၉ | ၁၉၉၀၆၆ | ၁၅၀၀ |
| ၃။ | Snack Food-Type B | ၁၉၉၀၆၆ | ၉ | ၂၉၈၅၉၈ | ၁၅၀၀ |
| ၄။ | Snack Food-Type C | ၁၃၂၇၁၁ | ၉ | ၁၉၉၀၆၆ | ၁၇၀၀ |
| ၅။ | Snack Food-Type D | ၉၉၅၃၃ | ၉ | ၁၄၉၂၉၉ | ၂၀၀၀ |

၅။ ဤလုပ်ငန်းမှ လိုအပ်သော ကုန်ကြမ်းပစ္စည်းများကို ပြည်တွင်း ၊ ပြည်ပမှ မှာယူတင်သွင်း မည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင်ရရှိမည့် ဝင်ငွေ နှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၃၀၃.၅၁ | ၅၁.၃၆ | ၁၄၃၄.၀၇ |
| (ခ) အသုံးစရိတ် | ၁၁၀၁.၅၁ | ၃၉.၃၉ | ၁၂၁၉.၀၉ |
| (ဂ) အသားတင်အမြတ် | ၂၀၃.၁၁ | ၁၁.၉၇ | ၂၁၄.၉၀ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်စဉ်ရရှိမည့်အကျိုး အမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၃၅ |
| (ကျပ်သန်း) | ၁၇.၀၀ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၆၅.၁၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်ပြည်တွင်း မှ ဝန်ထမ်း (၃၀၅) ဦး နှင့်ပြည်ပမှ ဝန်ထမ်း (၆) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်း၏ ငွေရေးကြေးရေး နိုင်ရာ ယောက်ဒါထား အမြင် ကုမ္ပဏီမှ ပြန်ပေးရ ရွှေ့ဆိုင်း ဘဏ်လီဒီ ... ဖြင့် သော ဘဏ်လက်ကျန် ... ရင်းကိုတင် ပြထား ပါသည်။

၁၀။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက် မော်တော်ယာဉ်တင်သွင်းခွင့်နှင့် ပတ်သက်၍ တည်ဆောက်ရေး ကာလအတွင်း Forklift 4 tons (၁) စီး၊ Sedan (၁) စီး၊ Mini-bus (၁) စီး နှင့် Truck (၁) စီး တို့ကိုအခွန်အကောက်ကင်း လွတ်ခွင့်ပြုရန်လည်း ကောင်း၊ လုပ်ငန်း ဆောင်ရွက်ချိန်တွင် Sedan (၁) စီး ၊ Mini - bus (၁) စီးနှင့် Truck (၁) စီး တို့ကိုအခွန် အကောက် ၅၀ % သက်သာ ခွင့်ပြုရန်လည်း ကောင်း တင်သွင်း ခွင့်ပြုရန် မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင် ၏ (၁၁/၉၀) ကြိမ်မြောက်ကော်မရှင် အစည်း အဝေး မှဆုံး ဖြတ်ခဲ့ပါသည်။

၁၁။ ဤလုပ်ငန်း ကို ဆောင်ရွက်ရန်အတွက် အမှတ် (၁) စက်မှုဇုန်ကြီး ဌာနသို့ သဘောထား မှတ်ချက် တောင်း ခံထား ရာ ကန့်ကွက်ရန် မရှိ ကြောင်း ... ကြောင်း ပြန် ကြား လာ ပါသည်။

၁၂။ ဤလုပ်ငန်း သည်ပြင်ပ နိုင်ငံသား များ သာ လုပ်ကိုင်နိုင်သော လုပ် ငန်း ဖြစ်ပြီး နိုင်ငံခြား မှ မည်သူမျှ လုပ်ကိုင်မှုမရှိ ကြောင်း ၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်း ထားသည့် စည်း ကမ်း များ ကိုလိုက်နာမည်ဖြစ် ကြောင်း၊ ပတ်ဝန်း ကျင်ညစ်ညမ်း မှုမဖြစ်ပေါ်စေရေး နှင့် မီး ဘေး အန္တရာယ်ကြိုတင်ကာကွယ် တား ဆီး ရေး လုပ်ငန်း များ ကို စနစ်တကျ စီမံ ဆောင်ရွက်မည်ဖြစ်ပါကြောင်း နှင့် ပြည်ပသို့တင်ပို့ရန် ဈေး ကွက်ရှိပြီး ဖြစ် ကြောင်း ဝန်ခံကတိပြုထား ပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့် ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တဆက်တည်း ( ၃ ) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေး ရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တောင်းခံထားရာ ယင်းအပေါ် သုံးသပ်တင်ပြချက်ကို ပူးတွဲဖော်ပြထားပါသည်။

၁၄။ <u>သုံးသပ်ရန်အချက်</u>

( က ) မြန်မာ့[illegible]များ သောက်ကုန်လုပ်ငန်းလိမ္မော်တက်မှ မုန့်မျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

( ခ ) သဘောတူပါက ဥပဒေပုဒ်မ ( ၁၃ ) ပါအခွန်ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစား ခွင့်ပြုရန် သဘောတူ - မတူ။

အတွင်းရေးမှူး ( ကိုယ်စား )

[ ဒေါ်ခင် မေခင်ရီ၊ တွဲဖက်အတွင်းရေးမှူး ]

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။</u>

## ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃ အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၃ (က) အရ လုပ်ငန်း ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြား ငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့်နှင့် ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြား ငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၃ (ခ) အရ လုပ်ငန်းမှ ပြည်ပတင်ပို့ ရောင်းချခြင်းမှ နိုင်ငံခြား ငွေဖြင့်ရရှိသည့် အမြတ်ငွေအပေါ် ( ၅ ) ရာခိုင်နှုန်းထိ ဝင်ငွေခွန်သက်သာခွင့်နှင့် ပတ်သက်၍ လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ပထမ ဝင်ငွေခွန်ကင်းလွတ်ခွင့် ( ၃ ) နှစ် ခံစားပြီးနောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်း ၊ ပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့်ကို လုပ်ငန်း အကောင်အထည် ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။
- ဥပဒေပုဒ်မ ၃ (ဃ) အရ သွင်းကုန်အစားထိုး လုပ်ငန်း အဖြစ်အကျိုးအမြတ်နည်းသည့်လုပ်ငန်း အပေါ် သက်ရောက်သော ကာလအထိ ဝင်ငွေခွန်သက်သာခွင့် တောင်းခံခြင်း ကိုအကျုံးဝင်ခြင်း မရှိဟုသုံးသပ်ရပါသည်။

(၁၉.၆.၉၈) ၁၁/၉၈ [illegible]



လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ

(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | |
|---|---|---|
| ၁ | အမည် | - မြန်မာလီဝေဝေစားသောက်ကုန်လုပ်ငန်း လီမိတက်<br>(Myanmar Liwayway Food Industries Ltd.)<br>မြန်မာကုမ္ပဏီ ( ၆-၁၁-၉၇ မှတ်ပုံတင်ပြီး ) |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | - ဗိုလ်မှူးကြီး ဝင်းမောင် ( အငြိမ်းစား ) |
| ၃ | အဆိုပြုလုပ်ငန်း အမျိုးအစား | - စားသောက်ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄ | တည်နေရာ | - အကွက်အမှတ် ( ၄၇၄ )၊ ရပ်ကွက်အမှတ် ( ၂၃ ) ဒဂုံမြို့သစ် တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်-၁၊ ရန်ကုန်မြို့။ |
| ၅ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ကျပ် ၃၄၅.၀၂ သန်း (US$ ၁၁.၆၁ သန်း အပါအဝင်) |
| | - ငွေပဒေသာ | ကျပ် ၁၀.၀၀ သန်း |
| | - မြေ | ကျပ် ၆၈.၃၃ သန်း |
| | - အဆောက်အဦ | ကျပ် ၂၀၁.၂၅ သန်း ( US$ ၀.၇၀ သန်း အပါအဝင် ) |
| | - စက်ပစ္စည်းကရိယာများ | ကျပ် ၄၉.၅၀ သန်း ( US$ ၈.၂၅ သန်း ) |
| | - ကုန်ကြမ်း ပစ္စည်းများ | ကျပ် ၁၅.၉၄ သန်း ( US$ ၂.၆၆ သန်း ) |
| ၆ | မြေအကြောင်းအရာ | |
| | - မြေအကျယ်အဝန်း | ၁၀.၅၁၂ ဧက ( ၄၂၅၄၀.၅၉ စတုရန်းမီတာ ) |
| | - မြေပိုင်ဆိုင်မှု | မြန်မာလီဝေဝေစားသောက်ကုန်လုပ်ငန်းလီမိတက် အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေ<br>( မြေကိုမတည်ငွေအဖြစ်ထည့်ဝင်ထားပါသည် ) |
| | - မြေအမျိုးအစား | စက်မှုမြေ |
| ၇ | ထုတ်လုပ်မှု ( ကာတွန်း ) | ပုံမှန်နှစ် |
| | - Kropeck | ၈၂၉၄၄ |
| | - Snack Food Type - A | ၃၃၁၇၇၆ |
| | - Snack Food Type - B | ၄၆၇၆၆၄ |
| | - Snack Food Type - C | ၃၃၁၇၇၆ |
| | - Snack Food Type - D | ၂၄၈[illegible]၃၂ |

| | | | |
|---|---|---|---|
| ၈ | ရေခဲ ချမည့်နည်း ဝနစ် | | |
| | - ပြည်တွင်း | - ၆၀ % | |
| | - ပြည်ပ | - ၄၀ % | |
| ၉ | ရေခဲ ဈေး နှုန်း ( ပုံမှန်နှစ် ) | <u>ပြည်တွင်း</u> | <u>ပြည်ပ</u> |
| | | ( ကျပ် / တစ်တန် ) | ( US$ / တစ်တန် ) |
| | - Kropeck | - | ၄၂ |
| | - Snack Food Type - A | ၁၅၀၀ | ၆ |
| | - Snack Food Type - B | ၁၅၀၀ | ၆ |
| | - Snack Food Type - C | ၁၇၀၀ | ၆ |
| | - Snack Food Type - D | ၂၀၀၀ | ၆ |
| ၁၀ | ဝင်ငွေ ( ပုံမှန်နှစ် ) | | |
| | - နိုင်ငံခြားငွေဖြင့် | US $ ၈.၅၆ သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၁၃၈၃.၅၁ သန်း | |
| ၁၁ | အသားတင်အမြတ် ( ပုံမှန်နှစ် ) | | |
| | - နိုင်ငံခြားငွေဖြင့် | US $ ၂.၀၀ သန်း | |
| | - ကျပ်ငွေဖြင့် | ကျပ် ၂၀၃.၀၁ သန်း | |
| ၁၂ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် ( နိုင်ငံခြားငွေဖြင့် ) | US $ ၀.၃၅ သန်း | |
| | ( ကျပ်ငွေဖြင့် ) | ကျပ် ၈၇.၀၀ သန်း | |
| | - ကုန်သွယ်လုပ်ငန်းခွန် | | |
| | ( ကျပ်ငွေဖြင့် ) | ကျပ် ၆၅.၈၈ သန်း | |
| ၁၃ | တည်ဆောက်မှုကာလ | ( ၆ ) လ | |
| ၁၄ | ဝန်ထမ်း အင်အား | <u>၃၉၁ ဦး</u> | |
| | - ပြည်တွင်း | ၃၈၅ ဦး | |
| | - ပြည်ပ | ၆ ဦး | |

၁၅ အခြား

- စက်ပစ္စည်းများ၊ အစားထိုးအပိုပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများကို ဖိလစ်ပိုင်နိုင်ငံ Liwayway Marketing Corporation မှ Supplier's Credit System အရအတိုးမဲ့ဝယ်ယူမည်ဖြစ်ပြီး၊ ပြည်ပသို့ပြန်ပို့ရောင်းချသည့်တန်ဖိုးဖြင့်သာ (၁၂) နှစ်အတွင်း ခုနှမ်ပေးချေသွားမည်ဖြစ်ပါသည်။
- စက်ပစ္စည်းကိရိယာစာရင်းကို ပူးတွဲတင်ပြထားပါသည်။
- စက်ရုံအဆောက်အဦကို နိုင်ငံခြားမှ မှာယူတင်သွင်းမည့် အသင့်ပြုလုပ်ပြီး သံထည်များဖြင့် ဆောက်လုပ်သွားမည်ဖြစ်ပါသည်။ ပထမနှစ်တွင် စက်ရုံအဆောက်အအုံတစ်လုံး နှင့် ဒုတိယနှစ်တွင်တစ်လုံး တည်ဆောက်မည်ဖြစ်ပါသည်။
- ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းများကိုလိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး နှင့်မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေး လုပ်ငန်းများကိုစနစ်တကျစီမံဆောင်ရွက်မည်ဖြစ်ပါကြောင်း နှင့်ပြည်ပသို့တင်ပို့ရန် ဈေးကွက်ရှိပြီး ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။
- အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံထားဆဲဖြစ်ပါသည်။
- လိုအပ်သောကုန်ကြမ်းပစ္စည်းများကို ပြည်တွင်းနှင့် ပြည်ပတို့မှ မှာယူတင်သွင်းမည်ဖြစ်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၁၀/၁၀(၁)(၃၄၁၀)/၉၀ (၃၂၄၆)

ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၀ ခု၊ ဇွန် လ ၁၆ ရက်။

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၀ ခုနှစ် မေလ ၂၂ ရက်နေ့စွဲပါစာအမှတ် ရက-၁/မ-၂၄၂/၉၀ (၀၇၂၇)

မြန်မာလီဝေဝေစား သောက်ကုန်လုပ်ငန်း လီမိတက်မှ ရန်ကုန်တိုင်းဒဂုံမြို့သစ် တောင်ပိုင်း စက်မှုဇုန် (၁) တွင် စက်ရုံတည်ဆောက်၍ အရည်အသွေး ကောင်းမွန်သော မုန့်များ ပြည်တွင်း ပြည်ပထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်လိုခြင်း နှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( )
(မြင့်ဆွေ၊ ဂိုးအဖွဲ့မှူး)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဆောင် *

# SUPPLEMENT TO SUPPLIER'S CREDIT AGREEMENT
# BETWEEN
# MYANMAR LIWAYWAY FOOD INDUSTRIES, LTD.
# AND
# LIWAYWAY MARKETING CORPORATION

## LIST OF MACHINERY, SPARE PARTS, BUILDING MATERIALS, MOTOR VEHICLES & RAW MATERIALS

**ANNEXURE-1**



| No. | Description | Price/Unit (USD) | Unit | Year 1 | | Year 2 | | Year 3 | | Total |
|---|---|---|---|---|---|---|---|---|---|---|
| | | | | Quantity | Total Price (USD) | Quantity | Total Price (USD) | Quantity | Total Price (USD) | |
| **A. MACHINERY & SPARE PARTS** | | | | | | | | | | |
| 1 | Air curtains | 1,500 | nos. | 8 | 12,000 | 7 | 10,500 | | | |
| 2 | Air dryer | 7,000 | nos. | 1 | 7,000 | 1 | 7,000 | 1 | 7,000 | |
| 3 | Air-conditioning equipment | 100,000 | lot | 1 | 100,000 | 1 | 100,000 | | | |
| 4 | Autopack machines | 41,000 | nos. | 20 | 820,000 | 10 | 410,000 | | | |
| 5 | Baked extrusion machine | 60,900 | nos. | 2 | 121,800 | 2 | 121,800 | | | |
| 6 | Blast freezer | 25,000 | nos. | 1 | 25,000 | 1 | 25,000 | | | |
| 7 | Boiler - 2 tons Diesel | 70,000 | nos. | 1 | 70,000 | 1 | 70,000 | 1 | 70,000 | |
| 8 | Bucket inclined conveyor | 18,000 | nos. | 2 | 36,000 | 2 | 36,000 | | | |
| 9 | Bucket elevator with hopper | 14,600 | nos. | 1 | 14,600 | | | | | |
| 10 | Cereal grinder | 5,000 | nos. | 2 | 10,000 | | | | | |
| 11 | Chiller for cooling 10 HP | 6,000 | nos. | 1 | 6,000 | | | | | |
| 12 | Choco ball line | 250,000 | lot | 1 | 250,000 | | | | | |
| 13 | Code printer | 4,000 | nos. | 20 | 80,000 | 10 | 40,000 | | | |
| 14 | Continuous coating drum with hopper feeder | 4,400 | nos. | 3 | 13,200 | 3 | 13,200 | | | |
| 15 | Corn chip extruder | 150,000 | nos. | 1 | 150,000 | | | | | |
| 16 | Cutter Body | 4,700 | nos. | 4 | 18,800 | 3 | 14,100 | | | |
| 17 | Dehumidifiers | 6,000 | nos. | 5 | 30,000 | 5 | 30,000 | | | |
| 18 | Dry ingredient flavor applicator | 11,000 | nos. | 2 | 22,000 | 2 | 22,000 | | | |
| 19 | Dust collector | 17,000 | nos. | 1 | 17,000 | | | | | |
| 20 | Epoxy paint (pails) | 250 | pails | 100 | 25,000 | | | | | |
| 21 | Factory lighting | 60,000 | lot | 1 | 60,000 | | | | | |
| 22 | First dryer | 90,000 | nos. | 8 | 720,000 | | | | | |
| 23 | Fryer line | 187,000 | nos. | 1 | 187,000 | | | | | |
| 24 | Generator Set | 80,000 | nos. | 1 | 80,000 | 1 | 80,000 | | | |
| 25 | Jacketed slurry tanks with platform | 12,000 | nos. | 4 | 48,000 | 4 | 48,000 | | | |
| 26 | Kett moisture meter | 1,200 | nos. | 4 | 4,800 | 4 | 4,800 | | | |
| 27 | Lalesse type rotary cutter | 15,000 | nos. | 2 | 30,000 | | | | | |
| 28 | Laminator Roller | 2,000 | nos. | 4 | 8,000 | 4 | 8,000 | 4 | 8,000 | |
| 29 | Multihead weigher | 40,700 | nos. | 8 | 325,600 | 4 | 162,800 | | | |
| 30 | Nitrogen generator | 120,000 | nos. | 1 | 120,000 | 1 | 120,000 | | | |
| 31 | NP line | 93,000 | nos. | 2 | 186,000 | | | | | |
| 32 | Oven | 6,000 | nos. | 1 | 6,000 | 1 | 6,000 | | | |
| 33 | Oven 1800 lbs. Capacity | 140,000 | nos. | 1 | 140,000 | | | | | |

## LIST OF MACHINERY, SPARE PARTS, BUILDING MATERIALS, MOTOR VEHICLES & RAW MATERIALS

**ANNEXURE-1**



| No. | Description | Price/Unit (USD) | Unit | Year 1 | | Year 2 | | Year 3 | | Total |
|---|---|---|---|---|---|---|---|---|---|---|
| | | | | Quantity | Total Price (USD) | Quantity | Total Price (USD) | Quantity | Total Price (USD) | |
| 34 | Oven 450 lbs. Capacity | 70,000 | nos. | 1 | 70,000 | 1 | 70,000 | | | |
| 35 | Oxygen analyzer | 6,000 | nos. | 1 | 6,000 | | | | | |
| 36 | Potato chip line | 680,000 | lot | 1 | 680,000 | | | | | |
| 37 | Product distribution system | 57,000 | lot | 1 | 57,000 | | | | | |
| 38 | Ribbon blender 200 kg. | 11,500 | nos. | 3 | 34,500 | 2 | 23,000 | | | |
| 39 | Ribbon blender 500 kg. | 17,000 | nos. | 1 | 17,000 | | | | | |
| 40 | Roaster with hopper feeder | 20,000 | nos. | 4 | 80,000 | | | | | |
| 41 | Salt and sugar grinder | 5,000 | nos. | 1 | 5,000 | 1 | 5,000 | | | |
| 42 | Scrap grinder | 39,600 | nos. | 1 | 39,600 | | | | | |
| 43 | Screw compressor | 12,000 | nos. | 2 | 24,000 | 1 | 12,000 | | | |
| 44 | SD carts / plastic trays | 195 | nos. | 20 | 3,900 | | | | | |
| 45 | Second Dryer | 10,340 | nos. | 30 | 310,200 | 10 | 103,400 | | | |
| 46 | Shrimp grinder | 4,000 | nos. | 2 | 8,000 | | | | | |
| 47 | Size change parts | 6,000 | set | 20 | 120,000 | 15 | 90,000 | | | |
| 48 | Slitters | 1,700 | nos. | 20 | 34,000 | 12 | 20,400 | | | |
| 49 | Slurry applicator | 26,000 | nos. | 2 | 52,000 | 2 | 52,000 | | | |
| 50 | Transformer | 15,000 | nos. | 1 | 15,000 | 1 | 15,000 | 1 | 15,000 | |
| 51 | Waste water system motor | 30,000 | nos. | 1 | 30,000 | | | | | |
| | Sub-total in USD | | | | 5,330,000 | | 1,720,000 | | 100,000 | 7,150,000 |
| | Sub-total in Kyats | | | | 31,980,000 | | 10,320,000 | | 600,000 | 42,900,000 |
| **B. BUILDING MATERIALS** | | | | | | | | | | |
| 1 | Steel Structure | 350,000 | | 1 | 350,000 | 1 | 350,000 | | - | |
| | Sub-total in USD | | | | 350,000 | | 350,000 | | - | 700,000 |
| | Sub-total in Kyats | | | | 2,100,000 | | 2,100,000 | | - | 4,200,000 |

## LIST OF MACHINERY, SPARE PARTS, BUILDING MATERIALS, MOTOR VEHICLES & RAW MATERIALS

**ANNEXURE-1**



| No. | Description | Price/Unit (USD) | Unit | Year 1 | | Year 2 | | Year 3 | | Total |
|---|---|---|---|---|---|---|---|---|---|---|
| | | | | Quantity | Total Price (USD) | Quantity | Total Price (USD) | Quantity | Total Price (USD) | |
| **C. MOTOR VEHICLES** | | | | | | | | | | |
| 1 | Forklift 2 tons (Brand New) | 25,000 | nos. | 2 | 50,000 | 2 | 50,000 | | | |
| 2 | Forklift 4 tons (Brand New) | 30,000 | nos. | 1 | 30,000 | 2 | 60,000 | | | |
| 3 | Vehicles (Sedan) (Brand New) | 35,000 | nos. | 2 | 70,000 | | | | | |
| 4 | Vehicles (Mini-bus) (Brand New) | 40,000 | nos. | 2 | 80,000 | 1 | 40,000 | | | |
| 5 | Vehicles (Trucks) (Brand New) | 36,000 | nos. | 10 | 360,000 | 10 | 360,000 | | | |
| | Sub-total in USD | | | | 590,000 | | 510,000 | | - | 1,100,000 |
| | Sub-total in Kyats | | | | 3,540,000 | | 3,060,000 | | - | 6,600,000 |
| **D. RAW MATERIALS** | | | | | | | | | | |
| 1 | Soft Wheat Flour | 240 | M/T | 1,200 | 288,000 | | | | | |
| 2 | Hard Wheat Flour | 294 | M/T | 1,000 | 294,000 | | | | | |
| 3 | Casava Starch | 120 | M/T | 1,200 | 144,000 | | | | | |
| 4 | Corn Starch | 292 | M/T | 400 | 116,800 | | | | | |
| 5 | Potato Starch | 208 | M/T | 800 | 166,400 | | | | | |
| 6 | Potato Flakes | 576 | M/T | 275 | 158,400 | | | | | |
| 7 | Corn Grits | 204 | M/T | 800 | 163,200 | | | | | |
| 8 | Corn Flour | 280 | M/T | 200 | 56,000 | | | | | |
| 9 | Rice Grits | 229 | M/T | 500 | 114,500 | | | | | |
| 10 | Green Peas | 160 | M/T | 350 | 56,000 | | | | | |
| 11 | Packaging Materials | 992 | M/T | 500 | 496,000 | | | | | |
| 12 | Cartons | 0.30 | pcs. | 276,000 | 82,800 | | | | | |
| 13 | Seasonings/Color | 1,490 | M/T | 70 | 104,300 | | | | | |
| 14 | Pellets | 416 | M/T | 1,000 | 416,000 | | | | | |
| | Sub-total in USD | | | | 2,656,400 | | - | | - | 2,656,400 |
| | Sub-total in Kyats | | | | 15,938,400 | | - | | - | 15,938,400 |
| | Grand Total in USD | | | | 8,926,400 | | 2,580,000 | | 100,000 | 11,606,400 |
| | Grand Total in Kyats | | | | 53,558,400 | | 15,480,000 | | 600,000 | 69,638,400 |

o/c

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၂၄၂/၉၈ ( ၄၄၃၉ )
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်။

အကြောင်းအရာ။ **လုပ်ငန်းသုံးအတွက် မော်တော်ယာဉ် နှင့် စက်ပစ္စည်းများ တင်သွင်းရန် ကိစ္စ။**

၁။ မြန်မာ လီဝေဝေ စားသောက်ကုန်လုပ်ငန်း လီမိတက် (Myanmar Liwayway Food Industries Ltd.) မှ စားသောက်ကုန် ပစ္စည်းများ (မုန့်မျိုးစုံ) ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ လုပ်ငန်းအတွက် မော်တော်ယာဉ်များ တင်သွင်းမှုနှင့်ပတ်သက်၍ တည်ဆောက်ရေး ကာလ အတွင်း Saloon 1(one) No., Mini-bus 1(one) No. and Truck 1(one) No. တို့ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Saloon 1(one) No., Mini-bus 1(one) No. and Truck 1(one) No. တို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုကြောင်းနှင့် တင်သွင်းမည့် စက်ပစ္စည်းများ စာရင်းတွင် Fork Lift 2 tons 4(four) Nos. and Fork Lift 4 tons 1(one) No. တို့ကို တင်သွင်းခွင့် ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကိုလိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့် ကုန်ပစ္စည်းများ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

ဥက္ကဋ္ဌ
မြန်မာ လီဝေဝေ စားသောက်ကုန်လုပ်ငန်း လီမိတက်။

မိတ္တူကို -
(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၄) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၅) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

Myanmar Liwayway Food Industries, Ltd.
No.96/98, Pansodan Street, Kyauktada Township, Yangon, Myanmar.
Tel : 250529, 272250, 273520, 283621, Fax : 95-1-240098 , P.O.Box : 1497

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ်။ ။ စီမံ/မနသ/၀၁၄
ရက်စွဲ။ ။ ၁၉၉၈ခုနှစ်၊မေလ(၁၈)ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုချက်များ အကြိုစိစစ်ပေးပါရန်ပေးပို့ခြင်း

၁။ မြန်မာ လီဝေဝေ စားသောက်ကုန်လုပ်ငန်း လီမိတက်သည် ပြည်ထောင်စု မြန်မာ နိုင်ငံတော် အတွင်း နိုင်ငံတကာအဆင့်မီ စားသောက်ကုန်ပစ္စည်းစက်ရုံကို ခေတ်မီ နည်းစံနစ်များဖြင့် တည်ဆောက်၍ အရည်အသွေးကောင်းမွန်သော မုန့်မျိုးစုံကို ပြည်တွင်း၌ထုတ်လုပ်ရောင်းချရန်နှင့် ပြည်ပသို့တင်ပို့ရောင်းချနိုင်ရန် ဦးတည်ချက်များဖြင့် ဖွဲ့စည်းတည်ထောင်ခဲ့သော မြန်မာနိုင်ငံသားများပိုင် လီမိတက်ကုမ္ပဏီဖြစ်ပါသည်။

၂။ အထက်ဖော်ပြပါ ဦးတည်ချက်များအတိုင်း လုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်အလို့ငှာ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၅) ပုဒ်မ(၈)အရ ကုမ္ပဏီသည် ခွင့်ပြုမိန့်ရရှိရေးအတွက် အဆိုပြုလွှာကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်သွင်းလျှောက်ထားအပ်ပါသည်။

၃။ ဤတင်သွင်းလျှောက်ထားလွှာနှင့်အတူ လိုအပ်သလို စိစစ်ခွင့်ပြုပေးပါရန် အဆိုပြုလွှာ (၁၅)စုံနှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဗိုလ်မှူးကြီးဝင်းမောင် (အငြိမ်းစား)
ဥက္ကဋ္ဌ
မြန်မာလီဝေဝေစားသောက်ကုန်လုပ်ငန်းလီမိတက်

29.6.98

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

မြန်မာလီဝေဝေစားသောက်ကုန်လုပ်ငန်းလီမိတက်

မှ

လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြချက်

ရက်စွဲ ။ ။ ၁၉၉၈ခုနှစ် ဇွန်လ(၂၉)ရက်

**Myanmar Liwayway Food Industries, Ltd.**
No.96/98, Pansodan Street, Kyauktada Township, Yangon, Myanmar.
Tel : 250529, 272250. 273520. 283621, Fax : 95-1-240098 , P.O.Box : 1497

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်။ ။ စီမံ / မနသ / ၀၂၈
ရက်စွဲ ။ ။ ၁၉၉၈ ခုနှစ် ဇွန်လ (၂၉)ရက်

အကြောင်းအရာ ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ပေးပို့ခြင်း။</u>

၁။ မြန်မာ လီဝေဝေ စားသောက်ကုန်လုပ်ငန်း လီမိတက်သည် ဒဂုံမြို့သစ် (တောင်ပိုင်း)၊ စက်မှုဇုံ(၁)၊ မြေတိုင်းရပ်ကွက် အမှတ်(၂၃)ရှိ မြေကွက်အမှတ်(၄၇၄)၊ မြေဧရိယာ အကျယ်အဝန်း ၁၀.၅၁၂ဧကကို မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ ဝယ်ယူရရှိခဲ့ပြီး၊ အဆိုပါ မြေကွက်တွင် နိုင်ငံတကာ အဆင့်မီ နည်းစနစ်များဖြင့် စားသောက်ကုန်ပစ္စည်း စက်ရုံတည်ဆောက်၍ အရည်အသွေး ကောင်းမွန်သော မုန့်မျိုးစုံကို ပြည်တွင်း၌ ထုတ်လုပ် ဖြန့်ဖြူးရောင်းချရန်နှင့် ပြည်ပသို့ တင်ပို့ရောင်းချရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ-၈ အရ ခွင့်ပြုမိန့် ရရှိရေးအတွက် လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်အရ မြန်မာလီဝေဝေစားသောက်ကုန် လုပ်ငန်းလီမိတက်၏ အဆိုပြုချက်ကို ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြ၍ ခွင့်ပြုချက်ရယူနိုင်ရန်အတွက် အဆိုပြုချက်(၂၅)စောင်ကို ပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဗိုလ်မှူးကြီးဝင်းမောင် (အငြိမ်းစား)
ဥက္ကဋ္ဌ
မြန်မာလီဝေဝေစားသောက်ကုန်လုပ်ငန်းလီမိတက်

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| ၃ | <u>မြန်မာလီဝေဝေး စားသောက်ကုန်လုပ်ငန်း လီမိတက် (Myanmar Liwayway Food Industries Ltd.) မှ မုန့်မျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u><br><br>တွဲဖက်အတွင်း ရေး မှူး ဦး မောင်မောင်ရီက မြန်မာလီဝေဝေး စားသောက်ကုန်လုပ်ငန်း လီမိတက်မှ စားသောက်ကုန်ပစ္စည်း များ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်၏ အဓိက အချက်အလက် များ ကို ရှင်း လင်း တင်ပြပါသည်။<br><br>ဒုတိယဝန်ကြီး ချုပ်၊ ဒုတိယ ဗိုလ်ချုပ်ကြီး မောင်မောင်ခင်က လုပ်ငန်း အတွက်တင်သွင်း လာမည့် စက်ပစ္စည်း ကိရိယာများ နှင့်ပတ်သက်၍ Steel Structure - များ ကိုလည်း တင်သွင်း ခွင့်ပြုရန်တင်ပြထား သည်ကို တွေ့ရှိရပါ ကြောင်း၊ အဆိုပါ Steel Structure များ နှင့်စက် ပစ္စည်း များ ၏ အခြေအနေ များ ကို FCEC မှ သေချာစွာ စိစစ်ရန်လိုအပ်မည်ဖြစ် ပါ ကြောင်း ပြောကြား ပါသည်။<br><br>အတွင်း ရေး မှူး ဝန်ကြီး ဗိုလ်မှူး ချုပ် မောင် မောင်က မော်တော်ယာဉ်စာရင်း တွင် Fork Lift ( 2 tons ) ( Brand New ) ပထမနှစ်တွင် (၂)စီး၊ ဒုတိယနှစ်တွင် (၂)စီး နှင့် Fork Lift 4 tons (Brand New ) ပထမနှစ်တွင် (၁)စီး၊ ဒုတိယနှစ်တွင် (၂)စီး၊ စုစုပေါင်း (၇)စီး တင်ပြ တောင်း ခံထား ရှိပါ ကြောင်း တင်ပြပါသည်။ | |

**Myanmar Liwayway Food Industries, Ltd.**
No.96/98, Pansodan Street, Kyauktada Township, Yangon, Myanmar.
Tel : 250529, 272250, 273520, 283621, Fax : 95-1-240098 , P.O.Box : 1497

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ်။ ။ စီမံ/မနသ/၀၁၅
ရက်စွဲ။ ။ ၁၉၉၈ခုနှစ်၊မေလ(၁၈)ရက်

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း</u>

၁။ မြန်မာ လီဝေဝေ စားသောက်ကုန် လုပ်ငန်း လီမိတက်သည် ပြည်ထောင်စု မြန်မာ နိုင်ငံတော်အတွင်း နိုင်ငံတကာအဆင့်မီ စားသောက်ကုန်ပစ္စည်းစက်ရုံကို ခေတ်မီ နည်းစံနစ်များဖြင့် တည်ဆောက်၍ အရည်အသွေးကောင်းမွန်သော မုန့်မျိုးစုံကို ပြည်တွင်း၌ ထုတ်လုပ်ဖြန့်ဖြူးရောင်းချရန်နှင့် ပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၅) ပုဒ်မ(၈)အရ ခွင့်ပြုမိန့်ရရှိရေးအတွက် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကုမ္ပဏီသည် မြန်မာနိုင်ငံသားများပိုင် လီမိတက် ကုမ္ပဏီဖြစ်ပြီး ကုမ္ပဏီမှ ဆောင်ရွက်မည့် အထက်ဖော်ပြပါလုပ်ငန်းတွင် မည်သည့်နိုင်ငံခြားသား ပိုင်ဆိုင်မှု တစ်စုံတစ်ရာမျှ မပါဝင်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၃။ စက်ရုံနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးနှင့် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေးလုပ်ငန်းများကို စနစ်တကျ စီမံဆောင်ရွက်မည် ဖြစ်ပါကြောင်းနှင့် စက်ရုံမှထွက်ရှိမည့် ကိုယ်ပိုင်တံဆိပ်ဖြင့် မုန့်မျိုးစုံကို ပြည်ပသို့ တင်ပို့ရောင်းချရန် ပြည်ပဈေးကွက် (ဖိလိပိုင်၊ တရုတ်၊ ဗီယက်နမ်) အဆင်သင့်ရှိပါကြောင်းကိုပါ ဖော်ပြအပ်ပါသည်။

၄။ အဆိုပြုတင်ပြသည့် လုပ်ငန်းသည် လုပ်ငန်းသစ်ဖြစ်ပြီး ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများ စက်အရန်ပစ္စည်းများ လုပ်ငန်းသုံးပစ္စည်းများ ကုန်ကြမ်းများကို Supplier's Credit စနစ်ဖြင့် ဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိပဲ မိမိ(ငွေချေးသူ)၏ တာဝန်သာ ဖြစ်ပါသည်။

၅။ ထို့ပြင် စက်ရုံတည်ဆောက်မည့် မြေသည်လည်း မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဝယ်ယူထားသည့် ကုမ္ပဏီပိုင်မြေဖြစ်ပြီး နိုင်ငံတော်မှ သတ်မှတ်ထားသည့် စည်းမျဉ်း စည်းကမ်းများနှင့် အညီ လိုက်နာ ဆောင်ရွက် သွားမည် ဖြစ်ပါကြောင်း ဝန်ခံ ကတိပြုပါသည်။

လေးစားစွာဖြင့်

ဗိုလ်မှူးကြီးဝင်းမောင် (အငြိမ်းစား)
ဥက္ကဋ္ဌ
မြန်မာလီဝေဝေစားသောက်ကုန်လုပ်ငန်းလီမိတက်

**Myanmar Liwayway Food Industries, Ltd.**
No.96/98, Pansodan Street, Kyauktada Township, Yangon, Myanmar.
Tel : 250529, 272250, 273520, 283621, Fax : 95-1-240098 , P.O.Box : 1497

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ။ ။ စီမံ / မနသ / ၀၁၆
ရက်စွဲ ။ ။ ၁၉၉၈ ခုနှစ်၊ မေလ (၁၈)ရက်

အကြောင်းအရာ ။ ။ <u>မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ နှင့် ၁၃ တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။</u>

၁။ မြန်မာ လီဝေဝေ စားသောက်ကုန် လုပ်ငန်း လီမိတက်သည် ဒဂုံမြို့သစ် (တောင်ပိုင်း)၊ စက်မှုဇုံ(၁)၊ မြေတိုင်းရပ်ကွက် အမှတ်(၂၃)၊ မြေကွက်အမှတ်(၄၇၄)၊ မြေဧရိယာ အကျယ်အဝန်း ၁၀.၅၁၂ ဧကကို မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဝယ်ယူရရှိခဲ့ပြီး၊ အဆိုပါ မြေကွက်တွင် နိုင်ငံတကာအဆင့်မီ နည်းစနစ်များဖြင့် စားသောက်ကုန်ပစ္စည်းစက်ရုံတည်ဆောက်၍ အရည်အသွေး ကောင်းမွန်သော မုန့်မျိုးစုံကို ပြည်တွင်း၌ ထုတ်လုပ်ဖြန့်ဖြူးရောင်းချရန်နှင့် ပြည်ပသို့ တင်ပို့ရောင်းချရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၈ အရ ခွင့်ပြုမိန့် ရရှိရေးအတွက် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကုမ္ပဏီသည် နိုင်ငံတကာအဆင့်မီ မုန့်မျိုးစုံထုတ်လုပ်မည့် စက်ရုံတည်ဆောက်ရာတွင် အမေရိကန်ဒေါ်လာ (၁၁၆၀၆၄၀၀) တန်ဖိုးရှိသည့် စက်ပစ္စည်းများ၊ အဆောက်အအုံပစ္စည်းအချို့နှင့် ပထမနှစ်အတွက် လိုအပ်မည့် ကုန်ကြမ်းပစ္စည်းအချို့ကို Liwayway Marketing Corporation မှ Supplier's Credit System အရ ဝယ်ယူ မည်ဖြစ်ပြီး နှစ်ဖက်ကြိုတင်ညှိနှိုင်း သဘောတူညီချက်အရ ငွေသားဖြင့် ပြန်လည်ပေးဆပ်မည် မဟုတ်ဘဲ၊ ပြည်ပသို့ တင်ပို့ ရောင်းချသည့် တန်ဖိုးဖြင့်သာ (၁၂)နှစ် အတွင်း ခုနှိမ်ပေးချေသွားမည် ဖြစ်ပါသည်။

၃။ သို့ပါ၍ စက်ရုံမှထုတ်လုပ်မည့် နိုင်ငံတကာအဆင့်မီ မုန့်မျိုးစုံ၏ ၆၀%ကို ပြည်တွင်း၌ မြန်မာကျပ်ငွေဖြင့် ရောင်းချမည်ဖြစ်ပြီး ကျန်၄၀%ကို ပြည်ပသို့တင်ပို့ရောင်းချမည်ဖြစ်ပါသည်။

၄။ မြန်မာနိုင်ငံတွင် နိုင်ငံတကာအဆင့်မီမုန့်မျိုးစုံထုတ်လုပ်သည့် စက်ရုံတည်ထောင်ခြင်းဖြင့် မုန့်အမျိုးမျိုးကို ပြည်တွင်းဈေးကွက်သို့ နိုင်ငံခြားငွေအသုံးပြုတင်သွင်းနေရခြင်းမှ သက်သာလျက် ဈေးနှုန်းချိုသာစွာဖြင့် ဝယ်ယူစားသုံးနိုင်ကြမည်ဖြစ်ပါသည်။

၅။ ထို့အပြင် စက်ရုံ၏ကုန်ထုတ်လုပ်ငန်းနှင့် အထောက်အကူပြု လုပ်ငန်းများတွင် လိုအပ်သည့် လုပ်သားအင်အားကို ပြည်တွင်းမှ ခေါ်ယူခန့်ထားမည်ဖြစ်ရာ၊ အလုပ်အကိုင် အခွင့်အလမ်းများလည်း တိုးတက်ဖြစ်ပေါ်လာနိုင်မည်ဖြစ်ပါသည်။

၆။ ဤကဲ့သို့ နိုင်ငံတကာအဆင့်မီမုန့်မျိုးစုံထုတ်လုပ်သည့်စက်ရုံ တည်ဆောက်ရာတွင် စက်ပစ္စည်းများရောင်းချသည့် Liwayway Marketing Corporation မှ ကျွမ်းကျင်သူပညာရှင်များ နှင့်ပူးပေါင်း၍ နိုင်ငံသားဝန်ထမ်းများကိုပါ တည်ဆောက်ခြင်းလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက် စေမည်ဖြစ်ရာ နည်းပညာပိုင်းဆိုင်ရာ အသိအမြင်များပါ ဖွံ့ဖြိုးတိုးတက်လာမည်ဖြစ်ပါသည်။

၇။ အထက်အပိုဒ်(၃)တွင် တင်ပြထားချက်အရ၊ စက်ရုံမှထွက်ရှိမည့် မုန့်မျိုးစုံ၏၄၀%ကို ပြည်ပသို့တင်ပို့ရောင်းချမည်ဖြစ်ရာ နိုင်ငံတော်အတွက် နိုင်ငံခြားငွေလည်း တစ်ဖက်တစ်လမ်းမှ ရရှိမည်ဖြစ်ပါသည်။

၈။ သို့ပါ၍ မြန်မာ လီဝေဝေ စားသောက်ကုန် လုပ်ငန်းလီမိတက်သည် နိုင်ငံတကာအဆင့်မီ မုန့်မျိုးစုံကို ခေတ်မီတိုးတက်သည့် စက်ကရိယာများနှင့် နည်းပညာရပ်များ အသုံးပြုလျှက် မြေ၊ စက်ရုံအဆောက်အဦး၊ ကုန်ကြမ်းပစ္စည်းများအပါအဝင် ရင်းနှီးမြှုပ်နှံငွေကျပ်(၃၄၅.၀၂)သန်းခန့်ဖြင့် ရင်းနှီးမြှုပ်နှံ လုပ်ကိုင်မည်ဖြစ်ပါ၍ ခွင့်ပြုမိန့်ရရှိရေးအတွက် အဆိုပြုလွှာတင်သွင်းလျှောက် ထားခြင်းကို လက်ခံစဉ်းစားပေးပါရန် တင်ပြအပ်ပါသည်။

၉။ ထို့ပြင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန်နှင့် နိုင်ငံတကာအဆင့်မီ မုန့်မျိုးစုံကို ပြည်တွင်း၌ကျပ်ငွေဖြင့် ရောင်းချရာတွင်လည်းကောင်း၊ ပြည်ပသို့နိုင်ငံခြားငွေဖြင့် ရောင်းချရာတွင်လည်းကောင်း ပထမ(၃)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် သက်သာခွင့်ပြုပါရန် အတွက် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန်ကိစ္စကိုပါ မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

၁၀။ ဤလျှောက်ထားခြင်းနှင့်အတူ အောက်ဖော်ပြပါ အထောက်အထားစာရွက်စာတမ်းများ ကိုပါ ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်
(ခ) စက်မှုလက်မှုလုပ်ငန်းအတွက်မြေအသုံးချခွင့်
(ဂ) Supplier's Credit Agreement (Draft)
(ဃ) Bank Statement
(င) ကုမ္ပဏီမှတ်ပုံတင်မိတ္တူ
(စ) ပုံစံ–၂၆ မိတ္တူ
(ဆ) ပုံစံ– ၆ မိတ္တူ

